



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ရှေ့ရှာ ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
## အတည်ပြုမိန့်

အတည်ပြုမိန့်အမှတ်-ဧရာ-၀၁၃/၂၀၁၈ ၂၀၁၈ ခုနှစ်၊ ဧပြီ လ ၃၀ ရက်

ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၂၅ ပုဒ်မခွဲ (ဃ) အရ ဤအတည်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) **ရင်းနှီးမြှုပ်နှံသူအမည်** ဦးဇော်လင်းလတ်

(၂) **နိုင်ငံသား** မြန်မာ

(၃) **နေရပ်လိပ်စာ** အမှတ်-၅၇၊ ရတနာကျွန်းရိပ်သာ၊ ကျောက်စိမ်းပတ်လမ်း(၄)ရပ်ကွက်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်မြို့

(၄) **ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ** DELTA INDUSTRIAL GROUP COMPANY LIMITED အမှတ်-၅၀၊ မြေညီထပ်၊ ပါရမီလမ်း၊ အမှတ်(၁၆)ရပ်ကွက်၊ လှိုင်မြို့နယ်၊ရန်ကုန်မြို့

(၅) **ဖွဲ့စည်းရာအရပ်** မြန်မာနိုင်ငံ

(၆) **ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား** အဆင့်မြင့် ဈေးပင်းမောလ် (Shopping Mall) တည်ဆောက်/ ရောင်းချ/ငှားရမ်းခြင်းလုပ်ငန်း

(၇) **ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ)** ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ ပျဉ်းကတိုးကုန်း ကျေးရွာအုပ်စု၊ ကွင်းအမှတ်-၅၄၊ ဦးပိုင်အမှတ်-N-၁၉၊ N-၂၀ ရှိမြေ ၁.၅၅ ဧက နှင့် ဦးပိုင်အမှတ်- ၁၉/၁ ရှိမြေ ၃.၆၈ ဧက စုစုပေါင်းမြေဧရိယာ ၅.၂၃ ဧက

(၈) **နိုင်ငံခြားမတည်ငွေရင်းပမာဏ** -

(၉) **နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ** -

(၁၀) **စုစုပေါင်းမတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၅၁၂၀.၁၄ သန်း (အမေရိကန်ဒေါ်လာ ၁.၇၄ သန်းအပါအဝင်)

(၁၁) **တည်ဆောက်မှု/ပြင်ဆင်မှုကာလ** ၂ နှစ်

(၁၂) **အတည်ပြုမိန့် သက်တမ်း** -

(၁၃) **ရင်းနှီးမြှုပ်နှံမှုပုံစံ** မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) **မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည်** DELTA INDUSTRIAL GROUP COMPANY LIMITED (မြစ်ဝကျွန်းပေါ်စက်မှုလုပ်ငန်းဆိုင်ရာအုပ်စုကုမ္ပဏီလီမိတက်)



ဥက္ကဋ္ဌ
ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ






ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ**

OSS စုပေါင်းရုံး၊ မြက်တို၊ ပုသိမ်မြို့

စာအမှတ်၊ ဧရက/အ-၀၁၅/အခြား/၂၀၁၈(၁၁၅-၈)

ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဧပြီ လ ၃၀ ရက်

အကြောင်းအရာ။ **Delta Industrial Group Company Limited (မြစ်ဝကျွန်းပေါ် စက်မှုလုပ်ငန်းဆိုင်ရာအုပ်စု ကုမ္ပဏီလီမိတက်)မှ ရာခိုင်နှုန်းပြည့် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် အဆင့်မြင့် ဈေးပင်းမောလ် (Shopping Mall) တည်ဆောက်/ ရောင်းချ/ ငှားရမ်းခြင်းလုပ်ငန်း အတည်ပြုမိန့် အပေါ် ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ Delta Industrial Group Company Limited ၏ ၂၆-၃-၂၀၁၈ ရက်စွဲပါတင်ပြစာ

၁။ Delta Industrial Group Company Limited (မြစ်ဝကျွန်းပေါ်စက်မှုလုပ်ငန်းဆိုင်ရာအုပ်စုကုမ္ပဏီလီမိတက်) မှ ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ ပျဉ်းကတိုးကုန်းကျေးရွာအုပ်စု၊ ကွင်းအမှတ်-၅၄၊ ဦးပိုင်အမှတ်-N-၁၉၊ N-၂၀ ရှိမြေ ၁.၅၅ ဧက နှင့် ဦးပိုင်အမှတ်-၁၉/၁ ရှိမြေ ၃.၆၈ ဧက စုစုပေါင်းမြေဧရိယာ ၅.၂၃ ဧကတွင် ရာခိုင်နှုန်းပြည့် နိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် အဆင့်မြင့်ဈေးပင်းမောလ် (Shopping Mall) တည်ဆောက်/ ရောင်းချ/ ငှားရမ်းခြင်း လုပ်ငန်း မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလွှာ တင်ပြခြင်းအား ၂၀၁၈ ခုနှစ် ဧပြီလ ၂၇ ရက်နေ့ တွင်ကျင်းပပြုလုပ်သော ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၂/၂၀၁၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ ဧရာဝတီတိုင်း ဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေများကို ကျင့်သုံးလျက် Delta Industrial Group Company Limited (မြစ်ဝကျွန်းပေါ်စက်မှုလုပ်ငန်းဆိုင်ရာ အုပ်စုကုမ္ပဏီလီမိတက်) အား အဆင့်မြင့်ဈေးပင်းမောလ် (Shopping Mall) တည်ဆောက်/ရောင်းချ/ငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် အတည်ပြုမိန့်အမှတ်၊ ဧရာ-၀၁၃/၂၀၁၈ ကို ထုတ်ပေး လိုက်သည်။

၂။ Delta Industrial Group Company Limited (မြစ်ဝကျွန်းပေါ်စက်မှုလုပ်ငန်းဆိုင်ရာအုပ်စုကုမ္ပဏီလီမိတက်) အနေဖြင့် ဤအတည်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် တစ်ဖက်ပါအချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) Delta Industrial Group Company Limited (မြစ်ဝကျွန်းပေါ်စက်မှုလုပ်ငန်းဆိုင်ရာအုပ်စု ကုမ္ပဏီလီမိတက်)အနေဖြင့် ဤအတည်ပြုမိန့်အရ အဆင့်မြင့်ဈေးဝင်းမောလ် (Shopping Mall) တည်ဆောက်/ ရောင်းချ/ ငှားရမ်း ခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့်အညီ ခံစား ခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ခ) Delta Industrial Group Company Limited (မြစ်ဝကျွန်းပေါ်စက်မှုလုပ်ငန်းဆိုင်ရာအုပ်စုကုမ္ပဏီလီမိတက်)သည် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအတည်ပြု လျှောက်ထားလွှာ၌ ဖော်ပြထားသည့် ဝန်ဆောင်မှု ရည်မှန်းချက်များကို **အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ်ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

(ဂ) Delta Industrial Group Company Limited (မြစ်ဝကျွန်းပေါ်စက်မှုလုပ်ငန်းဆိုင်ရာအုပ်စုကုမ္ပဏီလီမိတက်) အနေဖြင့် မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှုဥပဒေ ပုဒ်မ ၆၅ နှင့် နည်းဥပဒေ အခန်း(၂၀) တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(ဃ) Delta Industrial Group Company Limited (မြစ်ဝကျွန်းပေါ်စက်မှုလုပ်ငန်းဆိုင်ရာအုပ်စုကုမ္ပဏီလီမိတက်) အနေဖြင့် ရင်းနှီးမြှုပ်နှံမှုပုံစံကို ပြောင်းလဲခြင်းကြောင့် ခွင့်ပြုမိန့်ရယူရန်လိုအပ်သည့် ရင်းနှီးမြှုပ်နှံမှုဆိုင်ရာသတ်မှတ် ချက်များနှင့် အကျုံးဝင်သွားပါက ယင်းပြောင်းလဲမှု မဆောင်ရွက်မီ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၉ အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြရမည်။

(င) Delta Industrial Group Company Limited (မြစ်ဝကျွန်းပေါ်စက်မှုလုပ်ငန်းဆိုင်ရာအုပ်စုကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပြဋ္ဌာန်းထုတ်ပြန် ထားပြီးဖြစ်သော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန် ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ် နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(စ) Delta Industrial Group Company Limited (မြစ်ဝကျွန်းပေါ်စက်မှုလုပ်ငန်းဆိုင်ရာအုပ်စုကုမ္ပဏီလီမိတက်) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့် ငှားရမ်း ခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်း နှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံ ရင်းနှီး

မြေပြင်မှု ဥပဒေပုဒ်မ ၇၂ နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်း ဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

(ဆ) Delta Industrial Group Company Limited (မြစ်ဝကျွန်းပေါ်စက်မှုလုပ်ငန်းဆိုင်ရာအုပ်စုကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ အတည်ပြုမိန့် သို့မဟုတ် သက်သာခွင့် ရရှိထားသော ရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ် ဘဏ္ဍာရေးနှစ်ကုန်ဆုံး ပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များပါရှိသည့် နှစ်စဉ် အစီရင်ခံစာအားသတ်မှတ် ပုံစံဖြင့် ကုမ္ပဏီ၏ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်(ဘ်) ဆိုဒ်သို့ တင်ပြရမည်။

(ဇ) Delta Industrial Group Company Limited (မြစ်ဝကျွန်းပေါ်စက်မှုလုပ်ငန်းဆိုင်ရာအုပ်စုကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်း ဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်း အစီရင်ခံစာကို သုံးလလျှင် တစ်ကြိမ် ကော်မရှင်က သတ်မှတ်တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ Delta Industrial Group Company Limited (မြစ်ဝကျွန်းပေါ်စက်မှုလုပ်ငန်းဆိုင်ရာအုပ်စုကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စု ဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့် ရယူရန် လိုအပ် လျှင်ဖြစ်စေ၊ သက်ဆိုင်ရာဌာနနှင့် မြေငှားရမ်းခြင်း စာချုပ်ချုပ်ဆိုသည်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင် ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များ နှင့်အညီ ဆောင်ရွက်ပြီး မိတ္တူ(၅) စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

(လှမိုးအောင်)
ဥက္ကဋ္ဌ
ရောဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ

Delta Industrial Group Company Limited (မြစ်ဝကျွန်းပေါ် စက်မှုလုပ်ငန်းဆိုင်ရာ ကုမ္ပဏီလီမိတက်)

ဖြန့်ဝေခြင်း
ပြည်ထဲရေးဝန်ကြီးဌာန
ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန
မြန်မာနိုင်ငံတော်ဗဟိုဘဏ်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန